၅။ ဤဒုတိယအကြိမ်ပြင်ဆင်သည့်သဘာတူစာချုပ်သည်မူလစာချုပ်၊ ပထမအကြိမ်နှင့် ဒုတိယအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူ ရမည်။

၆။ အထက်ပါပြင်ဆင်ဖြည့်စွက်သော စည်းကမ်းချက်များမှအပ မူလစာချုပ်၊ ပထမအကြိမ်နှင့် ဒုတိယအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်၏ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

တတိယအကြိမ်

၇။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် စာချုပ်ဝင်များနှစ်ဖက်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အကျိုးသက်ရောက်မည်ဖြစ်ပါသည်။

၈။ ဤစာချုပ်တွင်ပါဝင်ချုပ်ဆိုသော စာချုပ်ဝင်များက အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူပါသဖြင့် ၂၀၁၇ ခုနှစ်၊ လ၊ ရက်၌ မိမိတို့၏တံဆိပ်များကို ခတ်နှိပ်ကြလျက် လက်မှတ်ရေးထိုးအတည်ပြုကြပါသည်။

<u>အငှားချထားသူ(ကိုယ်စား)</u>

ထိုးမြဲလက်မှတ် --------------------
အမည် - ဒေါက်တာရဲတင့်ထွန်း
ရာထူး - ညွှန်ကြားရေးမှူးချုပ်
ဌာန - စိုက်ပျိုးရေးဦးစီးဌာန
၁၂/သလန(နိုင်)၀၇၉၆၅၉

<u>အငှားချထားခြင်းခံရသူ(ကိုယ်စား)</u>

ထိုးမြဲလက်မှတ် --------------------
အမည် - ဦးဆန်းလင်းအောင်
ရာထူး - အထွေထွေမန်နေဂျာ

Delicious Food Limited

<u>အသိသက်သေ</u>

ထိုးမြဲလက်မှတ် --------------------
အမည် - ဦးဇော်ထွန်းမြင့်
ရာထူး - ဒု-ညွှန်ကြားရေးမှူးချုပ်
ဌာန - စိုက်ပျိုးရေးဦးစီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

<u>အသိသက်သေ</u>

ထိုးမြဲလက်မှတ် --------------------
အမည် - ဦးသီဟ
၉/သစန(နိုင်)၁၆၇၉၆၀
ရာထူး - မန်နေဂျာ
Delicious Food Limited






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၄၁/ ၂၀၁၆ (၃၃၆)

၁။ Delicious Food Ltd. မှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ စခန်းကြီးကျေးရွာအုပ်စု၊ ကွင်းအမှတ် -၉၇၈၊ ဂန့်ဂေါ်ကျွန်း၊ မြေကွက်အမှတ်-၂၇/င၊ ကွင်းအမှတ်-၉၈၉၊ ဘန့်ဘွေးကုန်း၊ မြေကွက်အမှတ်-၂၇/ခ၊ မြေကွက်အမှတ်-၂၇/စ၊ မြေကွက်အမှတ်-၃၈/င၊ မြေကွက်အမှတ်-၄၀/က၊ မြေကွက်အမှတ်-၄၀/င၊ မြေကွက်အမှတ်-၄၀/ယရှိ မြေဧရိယာစုစုပေါင်း ၉၈. ၂၁ ဧကတွင် အဆောက်အအုံ(ရုံးခန်းနှင့် ဝန်ထမ်းအဆောင်များအပါအဝင်) ဆောက်လုပ်၍ လယ်ယာထွက်ကုန်နှင့် စိုက်ပျိုးရေးနှင့်ဆက်စပ်သော စားသောက်ကုန် ပစ္စည်းများနှင့် လူသုံးကုန်ပစ္စည်းများ အရောင်းပြခန်းဖွင့်လှစ်၍ ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှတဆင့် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့် စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၃၀)ဦး လုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် စိုက်ပျိုးရေးဦးစီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ စခန်းကြီးကျေးရွာအုပ်စု၊ ကွင်းအမှတ် -၉၇၈၊ ဂန့်ဂေါ်ကျွန်း၊ မြေကွက်အမှတ်-၂၇/င၊ ကွင်းအမှတ်-၉၈၉၊ ဘန့်ဘွေးကုန်း၊ မြေကွက်အမှတ်-၂၇/ခ၊ မြေကွက်အမှတ်-၂၇/စ၊ မြေကွက်အမှတ်-၃၈/င၊ မြေကွက်အမှတ်-၄၀/က၊ မြေကွက်အမှတ်-၄၀/င၊ မြေကွက်အမှတ်-၄၀/ယရှိ မြေဧရိယာစုစုပေါင်း ၉၈. ၂၁ ဧကအား တစ်နှစ်လျှင် တစ်ဧကကျပ်(၁၀၀၀၀/-)နှုန်းဖြင့် (၉၈. ၂၁ ဧက)အား တစ်နှစ်အတွက် ငွေကျပ်(၉. ၈၂)သိန်းနှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2016/Cabinet/12.,(21)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၇. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၂၀)အရ Delicious Food Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Delicious Food Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/12.,(22)



# DELICIOUS FOOD LIMITED.

No.185/190, Room No. (902), Pansodan Tower, Pansodan Street, Kyauktada Township, Yangon, Myanmar.
Tel : (95) 09-73220397 ▲ Fax: (95) 01-503832

စာအမှတ် ။ ။ DFL -0019/ 05/ 2016

ရက်စွဲ ။ ။၂၀၁၆ ခုနှစ်၊ မေလ (၆)ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

အကြောင်းအရာ ။ ။ **အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာသည် ရန်ကုန်-မန္တလေး အမြန်လမ်းမကြီးမှ ပေ (၁၀၀၀) ကျော် အကွာတွင် တည်ရှိ၍ လမ်းနယ်နမိတ်နှင့် ကင်းလွတ်မှုရှိကြောင်း ရှင်းလင်းတင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉. ၄. ၂၀၁၆)ရက်နေ့စွဲပါ စာအမှတ်- ရက-၄/မ-၁၅၄၁/ ၂၀၁၆ (၅၉၉)။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ Delicious Food Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ လှည်းကူးမြို့နယ်၊ စခန်းကြီးကျေးရွာအုပ်စု၊ ကွင်းအမှတ်-၉၇၈၊ ဂန့်ဂေါ်ကျွန်း၊ မြေကွက်အမှတ်-၂၇ဂ ၊ ကွင်းအမှတ်-၉၈၉၊ ဘန့်ဘွေးကုန်း၊ မြေကွက်အမှတ်-၂၇ခ ၊ မြေကွက်အမှတ်-၂၇စ ၊ မြေကွက်အမှတ်-၃၈ဂ ၊ မြေကွက်အမှတ်-၄၀/က၊ မြေကွက်အမှတ်-၄၀ဂ ၊ မြေကွက်အမှတ်-၄၀ဃ ရှိ မြေဧရိယာစုစုပေါင်း ၉၈. ၂၁ ဧကတွင် အဆိုပြုလုပ်ငန်းအတွက် ရည်ညွှန်းချက်စာဖြင့် ရန်ကုန်-မန္တလေး အမြန်လမ်းမကြီး၏ မိုင်တိုင် အမှတ်၊ ၄/၀-၄/၅ အတွင်းဝဲဘက်ခြမ်းတွင်တည်ရှိပြီး ကုမ္ပဏီ၏ခြံစည်းရိုးမှာ လမ်းဗဟိုမှ (၁၃၂)ပေအကွာတွင်တည်ရှိ၍ လမ်းနယ်နမိတ်နှင့် ကင်းလွတ်မှုမရှိကြောင်း ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်စာဖြင့် ပေးပို့လာပါသည်။

အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ရန်ကုန်-မန္တလေး အမြန်လမ်းမကြီး၏ မိုင်တိုင်အမှတ်၊ ၄/၀-၄/၅ အတွင်းဝဲဘက်ခြမ်းတွင် တည်ရှိပြီး လမ်းဗဟိုမှ **ပေ(၁၀၀၀)**ကျော် အကွာတွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်သောကြောင့် လမ်းနယ်နမိတ်နှင့်ကင်းလွတ်မှုရှိကြောင်းကို ပူးတွဲပါလမ်းပြမြေပုံနှင့်အဆောက်အဦးတည်နေရာမြေပုံနှင့်တကွ လေးစားစွာဖြင့် ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Tun Tun Win
Managing Director
Delicious Food Ltd.


ကျွန်းကလေး စိုက်ခင်းသို့သွားသော လမ်းပြမြေပုံ
၇၄.၃၂ ဧက
အမြန် လမ်း မကြီး
Yangon
ကျွန်းကလေး စိုက်ခင်းသို့ သွားသောလမ်း (5 Km)
HLegu
ရန်ကုန် - မန္တလေး အဝေးပြေး လမ်းမကြီး
သာယာကုန်းကျေးရွာအုပ်စု
ကျောက်အိုင် ကျေးရွာ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပြည်ထောင်စုရှေ့နေချုပ်ရုံး
# နေပြည်တော်

စာအမှတ်၊ ၂(၅) ၃-၄၈ / နပတ (၂၄၉)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၉ ရက်

အကြောင်းအရာ။ **ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၁၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၄ / ၉၀ (က) (၃) ( ၃၂၃/ ၂၀၁၆ )

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကျွန်းကလေးစိုက်ကွင်း၏ မြေဧရိယာ (၉၈.၂၁)ဧကအား Delicious Food Limited သို့ ငှားရမ်းရန်အတွက် ပြင်ဆင်ချုပ်ဆိုမည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသောကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသော ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အား လေ့လာစိစစ်ရာ မူလစာချုပ်ပါ ငှားရမ်းသည့်ကာလနှင့် စာချုပ်သက်တမ်းတို့အား တိုးမြှင့်ပြင်ဆင်လိုခြင်းကြောင့် ဤဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်ကို ချုပ်ဆိုလိုခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပေးပို့လာသော ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) အပိုဒ် ၁ အစားထိုးပြင်ဆင်မည့်မူလစာချုပ်၏ အပိုဒ် (၂)၊ အပိုဒ်ခွဲ (က)တွင် "ရန်ကုန်တိုင်းဒေသကြီး ××××× (၉၈.၂၁)ဧကအား စာချုပ်လက်မှတ်ရေးထိုးသည့် (၂၂-၁၀-၂၀၁၄) ရက်နေ့မှစ၍ ×××××" ဟု

ဖော်ပြထားရာ ခေါင်းစဉ်မှာ "အငှားချထားသည့်ပစ္စည်း" ဖြစ်၍ ခေါင်းစဉ်နှင့် ဆီလျော်မှုရှိသည့် အပိုင်းကိုသာ ထည့်သွင်းဖော်ပြသင့်ပါသည်။ စာချုပ်သက်တမ်းနှင့် ပတ်သက်သည့်စာသားများအား စာချုပ်သက်တမ်းခေါင်းစဉ်အောက်တွင် ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂၊ အစားထိုးပြင်ဆင်မည့် မူလစာချုပ်၏ အပိုဒ် (၄)၊ အပိုဒ်ခွဲ (က)တွင် ကနဦးနှစ် (၅၀)သက်တမ်းနှင့် (၁၀)နှစ် သက်တမ်းတိုး (၂)ကြိမ် စုစုပေါင်း(၅၀+၁၀+၁၀)နှစ်အထိ ငှားရမ်းရန် သဘောတူကြောင်း ဖေါ်ပြထားရာ တစ်ခါတည်းနှစ် ၇၀ငှားရမ်းမည့် သဘောသက်ရောက်နေပါသည်။မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၄ တွင် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ်မူတည်၍ ကနဦးနှစ် (၅၀)အထိ ခွင့်ပြုနိုင်သည်ဟုလည်းကောင်း၊ အဆိုပါဥပဒေပုဒ်မ ၂၅ တွင် ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားပေါ်မူတည်၍ တစ်ဆက်တည်းသက်တမ်းတိုးခွင့် (၁၀)နှစ်၊ နှစ်ကြိမ်တိုးမြှင့်ပေးနိုင်သည်ဟုလည်းကောင်း ပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ အဆိုပါဥပဒေနှင့်အညီ ယင်းစည်းကမ်းချက်အား မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၃၊ အစားထိုးပြင်ဆင်မည့် အပိုဒ် (၅)၊ အပိုဒ်ခွဲ (ဂ)တွင် "--------- ငှားရမ်းခကို လုပ်ငန်း၏ အကျိုးအမြတ်ပေါ်မူတည်၍ နောက်ဆုံးသတ်မှတ်နှုန်းထက် (၅)ရာခိုင်နှုန်းပိုခြင်း၊ လျော့ခြင်းမဖြစ်စေရ ပါဟုငှားရမ်းရန်သဘောတူကြပါသည်" ဟုဖော်ပြထားပါသည်။ နောက်ဆုံးသတ်မှတ်နှုန်းဆိုသည်မှာ မည်သည့်အပေါ်တွင် မူတည်၍ တွက်ချက်မည်ဖြစ်သည်ကို ထည့်သွင်းသတ်မှတ်ဖော်ပြရန်နှင့် လုပ်ငန်း၏အကျိုးအမြတ်ပေါ်မူတည်၍ သတ်မှတ်မည်ဆိုပါက အဆိုပါအချက်နှင့်စပ်လျဉ်း၍ ဌာနမှ လက်ခံခွင့်ပြုနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊



01/03 2016 12:10PM FAX 06741001
RECEIVED 01/03/2016 12:06
0002

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၄၊ အစားထိုးပြင်ဆင်မည့် မူလစာချုပ်၏ အပိုဒ် (၇)၊ အပိုဒ်ခွဲ (ခ)တွင် "အငှားချထားခြင်းခံရသူ ကနဦးနှစ် (၅၀)သက်တမ်းနှင့် (၁၀)နှစ်သက်တမ်းတိုး (၂)ကြိမ် စုစုပေါင်း (၅၀+၁၀+၁၀)နှစ် ငှားရမ်းကာလပြည့်မြောက်ပြီး၊ ဆက်လက်ငှားရမ်းရန်အတွက် နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်၍ ထပ်မံငှားရမ်းမည့်ကာလအတွက် အငှားချထားသူက သဘောတူလျှင် စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်" ဟု ဖော်ပြထားပါသည်။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၄ တွင် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ်မူတည်၍ ကနဦးနှစ် (၅၀)အထိ ခွင့်ပြုနိုင်သည်ဟုလည်းကောင်း၊ အဆိုပါဥပဒေပုဒ်မ ၂၅ တွင် ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားပေါ်မူတည်၍ တစ်ဆက်တည်းသက်တမ်းတိုးခွင့် (၁၀)နှစ်၊ နှစ်ကြိမ်တိုးမြှင့်ပေးနိုင်သည်ဟုလည်းကောင်း ပြဋ္ဌာန်းထားသဖြင့် ကနဦးသက်တမ်းနှင့် သက်တမ်းတိုးမြှင့်သည့်ကာလ ကုန်ဆုံးပြီးနောက် ထပ်မံငှားရမ်းမည့်ကာလနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်ညီညွတ်မှုမရှိဟုယူဆပါသည်။ သို့ပါ၍ ယင်းဥပဒေနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၆ တွင် "မူလသဘောတူစာချုပ်၏ အထွေထွေခေါင်းစဉ်အောက်ရှိ အပိုဒ် (၂၃)၊ အပိုဒ်ခွဲ (စ)အား ပယ်ဖျက်ရန် သဘောတူကြောင်း" ဟုဖော်ပြထားရာ မူလစာချုပ်အပိုဒ် ၂၃(စ)တွင် "အငှားချထားခြင်းခံရသူ ×××××× ကနဦး(၁၀)နှစ်တွင် ကျပ်သိန်း (၃၀၀) နှင့် နောင်(၅)နှစ်(၂)ကြိမ်အတွက် ကျပ်သိန်း(၁၀၀)စီဖြင့် ရင်းနှီးမြှုပ်နှံဆောင် ရွက်သွားမည်ဖြစ်ပါသည်" ဟုဖော်ပြထားသဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏအား ဖျက်သိမ်းလိုခြင်းဖြစ်သည်ဟု ယူဆပါသည်။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ဖျက်သိမ်းရန်မသင့်ဟု ယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊



01/03 2016 12:10PM FAX 067410015
RECEIVED 01/03/2016 12:06
0003

(စ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံမှန်ကန်စွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဆ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါ သည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ Delicious Food Limited သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်း ကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၇။ ဤ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

( ကျော်ဆန်း )
တာဝန်ခံညွှန်ကြားရေးမှူးချုပ်(တာဝန်)

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



Acer/DSSW/Delicious Food Limited (28-2-2016)

01/03 2016 12:10PM FAX 067410013 RECEIVED 01/03/2016 12:06 0004

ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကျွန်းကလေးစိုက်ကွင်း၏
မြေဧရိယာ (၉၈.၂၁) ဧက ငှားရမ်းခြင်းသဘောတူစာချုပ်ကို
ဒုတိယအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်

စာချုပ်အမှတ်- /2016

စိုက်ပျိုးရေးဦးစီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

နှင့်

Delicious Food Limited

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ( ) ရက်။
နေရာ။ ။ စိုက်ပျိုးရေးဦးစီးဌာန (ရုံးချုပ်)၊ နေပြည်တော်

## ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကျွန်းကလေးစိုက်ကွင်း၏ မြေဧရိယာ (၉၈.၂၁) ဧက ငှားရမ်းခြင်းသဘောတူစာချုပ်ကို ဒုတိယအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်

စာချုပ်အမှတ်- /2016 ရက်စွဲ။ - ၂-၂၀၁၆

ဤငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နေပြည်တော်၌၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ( ) ရက်၌ ဦးကျော်ရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန ကိုယ်စားပြုသော နေပြည်တော်၊ ရုံးအမှတ်(၁၅)တွင်တည်ရှိသည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန (ရုံးချုပ်) ( နောင်တွင် “ အငှားချထားသူ” ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကတစ်ဘက်နှင့် ဦးဆန်းလင်းအောင်၊ မန်နေဂျာ (နိုင်ငံသားစိစစ်ကတ်အမှတ်- ၁၂/ သလန (နိုင်) ဂ၇၉၆၅၉) ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၁၈၅/၁၉၀)၊ အခန်းအမှတ်(၉ပ၂)၊ ပန်းဆိုးတန်း တာဝါ ၊ ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့တွင် တည်ရှိသော Delicious Food Ltd၊ (နောင်တွင် “ ငှားယူသူ” ဟု ခေါ်ဆိုမည် ဖြစ်ပြီး၊ ယင်းစကားရပ်၌၊ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်) က အခြားတစ်ဘက်တို့သည် (က) (၂၂.၁၀.၂၀၁၄) ရက်နေ့တွင် ငှားရမ်းရေးသဘောတူ စာချုပ်ကို (နောင်တွင် "မူလစာချုပ်" ဟု ခေါ်ဆိုမည်) ကို ချုပ်ဆိုခဲ့ပါသည်။ (ခ) (၅.၁၁.၂၀၁၅)ရက်နေ့တွင် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်ကို (နောင်တွင် "ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်" ဟု ခေါ်ဆိုမည်) ကို ချုပ်ဆိုခဲ့ပါသည်။ (ဂ)မူလစာချုပ်နှင့် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ် ကို ပြင်ဆင်ဖြည့်စွက်ရန် လိုအပ်လာပါသောကြောင့် ဤပြင်ဆင်ချက် သဘောတူစာချုပ်အား အောက်ပါစည်းကမ်းချက်များကို သဘောတူ၍ ချုပ်ဆိုကြပါသည်။ အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ ဤသဘောတူစာချုပ်ကို ချုပ်ဆိုခြင်း ဖြစ်ပါသည်။



0008
RECEIVED 01/03/2016 12:06
01/03 2016 12:11PM FAX 067410013

၁။ မူလသဘောတူစာချုပ်၏ အငှားချထားသည့် ပစ္စည်းခေါင်းစဉ်အောက်ရှိ အပိုဒ် (၂)၊ အပိုဒ်ခွဲ (က)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရန် သဘောတူကြပါသည်။

(က) ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ စိုက်ပျိုးရေးဦးစီးဌာနပိုင် ကျွန်းကလေး စိုက်ကွင်းဧရိယာ (၉၈.၂၁)ဧကအား စာချုပ်လက်မှတ်ရေးထိုးသည့် (၂၂.၁၀.၂၀၁၄) ရက်နေ့မှစ၍ ကနဦး နှစ်(၅၀) သက်တမ်းနှင့် (၁၀)နှစ် သက်တမ်းတိုး (၂)ကြိမ်၊ စုစုပေါင်း (၅၀+၁၀+၁၀)နှစ်အထိ ငှားရမ်းရန် သဘောတူကြပါသည်။

၂။ မူလသဘောတူစာချုပ်၏ ငှားရမ်းသည့်ကာလခေါင်းစဉ်အောက်ရှိ အပိုဒ် (၄)၊ အပိုဒ်ခွဲ (က)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရန် သဘောတူကြပါသည်။

(က) ငှားရမ်းသည့်ကာလကို အငှားချထားသူသည် မြေဧရိယာ (၉၈.၂၁)ဧက အကျယ်အဝန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ရှည်ရင်းနှီး မြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် မူလသဘောတူစာချုပ် အကျိုးသက်ရောက်သည့် (၂၂.၁၀.၂၀၁၄) ရက်နေ့မှစ၍ကနဦးနှစ်(၅၀)သက်တမ်းနှင့် (၁၀)နှစ်သက်တမ်းတိုး (၂)ကြိမ်၊ ~~စုစုပေါင်း (၅၀+၁၀+၁၀) နှစ်အထိ ငှားရမ်းရန် သဘောတူကြပါသည်။~~

၃။ ပထမအကြိမ်ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်၏ ငှားရမ်းခ ခေါင်းစဉ် အောက်ရှိ အပိုဒ်(၅)၊ အပိုဒ်ခွဲ(ဂ)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရန် သဘောတူကြပါသည်။

(ဂ) အငှားချထားသောမြေဧရိယာ(၉၈.၂၁)ဧက အကျယ်အဝန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ၂၀၂၄ ခုနှစ်၊ အောက်တိုဘာလ (၂၁)ရက်နေ့အထိ ငှားရမ်းခ အဖြစ် (၁)နှစ်လျှင် ငွေကျပ်(၉.၈၂၁)သိန်းနှုန်း (ကျပ်ကိုးသိန်းရှစ်သောင်း နှစ်ထောင့် တစ်ရာတိတိ)နှုန်းနှင့် ငှားရမ်းခသတ်မှတ်ရာတွင် ကျန်နှစ်(၄၀)အတွက် ငှားရမ်းခကို (၅)နှစ် (၈)ကြိမ်အတွက်လည်းကောင်း၊ သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် အတွက် လည်းကောင်း ငှားရမ်းခကို လုပ်ငန်း၏အကျိုးအမြတ်ပေါ်မူတည်၍ နောက်ဆုံး သတ်မှတ်နှုန်းထက် (၅)ရာခိုင်နှုန်း ပိုခြင်း/လျော့ခြင်း မဖြစ်စေရပါဟု ငှားရမ်းရန် သဘောတူကြပါသည်။



01/03 2016 12:11PM FAX 067410013
RECEIVED 01/03/2016 12:06
0007

၄။ မူလသဘောတူစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်းခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)၊ အပိုဒ်ခွဲ (ခ) အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရန် သဘောတူကြပါသည်။

(ခ) အငှားချထားခြင်းခံရသူက ကနဦး နှစ်(၅၀)သက်တမ်းနှင့် (၁၀)နှစ် သက်တမ်းတိုး (၂)ကြိမ်၊ စုစုပေါင်း (၅၀+၁၀+၁၀)နှစ် ငှားရမ်းကာလပြည့်မြောက်ပြီးနောက်၊ ဆက်လက်ငှားရမ်းရန်အတွက် နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်၍ထပ်မံငှားရမ်းမည့် ကာလအတွက် အငှားချထားသူက သဘောတူလျှင် စာချုပ်သက်တမ်း တိုးမြှင့် နိုင်သည်။

၅။ မူလသဘောတူစာချုပ်၏ အငှားချထားခြင်းခံရသူ၏တာဝန် ခေါင်းစဉ်အောက်ရှိ အပိုဒ် (၁၄)၊ အပိုဒ် ခွဲ (ဆ)အဖြစ် အောက်ပါအပိုဒ်ခွဲအား ထပ်မံဖြည့်စွက်ရန် သဘောတူကြပါသည်။

(ဆ) အငှားချထားခြင်းခံရသူသည် မိမိငှားရမ်းထားသည့် မြေဧရိယာပေါ်ရှိ လုပ်ငန်းများကို တိုးချဲ့၍ ထပ်မံရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါက မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ခွင့်ရှိသည်။

၆။ မူလသဘောတူစာချုပ်၏ အထွေထွေခေါင်းစဉ်အောက်ရှိ အပိုဒ် (၂၃)၊ အပိုဒ်ခွဲ(စ)အား ပယ်ဖျက်ရန် သဘောတူကြပါသည်။

၇။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်နှင့် ပထမအကြိမ်ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူရမည်။

၈။ အထက်ပါပြင်ဆင်ဖြည့်စွက်သော စည်းကမ်းချက်များမှအပ မူလစာချုပ်နှင့် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်၏ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၂၀၁၆

၉။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် စာချုပ်ဝင်များ နှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မည်ဖြစ်သည်။



01/03 2016 12:11PM FAX 067410013
RECEIVED 01/03/2016 12:06
0008

ဤစာချုပ်တွင် ပါဝင်ချုပ်ဆိုသော စာချုပ်ဝင်များက အထက်ဖော်ပြပါ စည်းကမ်းချက်များကို နားလည်သဘောပေါက်သဖြင့် အောက်ပါသက်သေများရှေ့တွင် ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ရက်၌ မိမိတို့၏ တံဆိပ်များခပ်နှိပ်ကြလျက် လက်မှတ်ရေးထိုးကြပါသည်။

"အငှားချထားသူ" (ကိုယ်စား)

ထိုးမြဲလက်မှတ်၊ ........................

အမည် - ဦးကျော်ရွှေ

ရာထူး - ညွှန်ကြားရေးမှူးချုပ်

ဌာန - စိုက်ပျိုးရေးဦးစီးဌာန

"ငှားယူသူ"(ကိုယ်စား)

ထိုးမြဲလက်မှတ်၊ ........................

အမည် - ဦးဆန်းလင်းအောင်

ရာထူး - အထွေထွေမန်နေဂျာ

မှတ်ပုံတင် - ၁၂/သလန(နိုင်) ၀၇၉၆၅၉

ကုမ္ပဏီ - Delicious Food Limited

အသိသက်သေ

ထိုးမြဲလက်မှတ် - ------------------

အမည် - ------------------

ရာထူး - ------------------

ဌာန - စိုက်ပျိုးရေးဦးစီးဌာန

အသိသက်သေ

ထိုးမြဲလက်မှတ်၊ -----------------------

အမည် - ဦးသီဟ

မှတ်ပုံတင် - ၉/သစန(နိုင်) ၁၆၇၉၆၀

ရာထူး - မန်နေဂျာ

ကုမ္ပဏီ - Delicious Food Limited

ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ

ကျွန်းကလေးစိုက်ကွင်း၏

မြေဧရိယာ (၉၈.၂၁) ဧက ငှားရမ်းခြင်းသဘောတူစာချုပ်

**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

**စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန**

**နှင့်**

**Delicious Food Limited**

၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ (၂၂) ရက်






# ငှားရမ်းရေးသဘောတူစာချုပ်

ရက်စွဲ၊ ၂၂-၁၀-၂၀၁၄

ဤငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်၌ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ(၂၂)ရက်၌ ဦးကျော်ရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ ကိုယ်စားပြုသော နေပြည်တော်၊ရုံးအမှတ်(၅၀)တွင်တည်ရှိသည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန (ရုံးချုပ်)၊ (နောင်တွင် **"အငှားချထားသူ'** ခေါ်မည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်း၏ ဆက်ဆံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်) ကတစ်ဘက်နှင့်၊ ဦးဆန်းလင်းအောင်၊ မန်နေဂျာ (နိုင်ငံသားစီစစ်ရေးကဒ်အမှတ်-၁၂/သလန (နိုင်) ၀၇၉၆၅၉) ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ အမှတ်-၁၈၅/၁၉၀၊ အခန်း (၉၀၂)၊ ပန်းဆိုးတန်းတာဝါ၊ ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင်ရှိသော Delicious Food Limited၊ Ph-၀၉-၇၃၂၂၀၃၉၇ (နောင်တွင် **"အငှားချထားခြင်းခံရသူ"** ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်း၏ ဆက်ခံသူများ ဥပဒေအရ လွှဲအပ်ခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်) က အခြားတစ်ဘက် တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ ဤသဘောတူ စာချုပ်ကိုချုပ်ဆိုခြင်း ဖြစ်ပါသည်။

## ရည်ရွယ်ချက်

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး၏ မိန့်မှတ်ချက်အရ လယ်ယာကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးနှင့် ကြံသီးနှံဖွံ့ဖြိုးတိုးတက်ရေးအတွက် ငှားရမ်းခြင်းဖြစ်ပါသည်။

## အငှားချထားသည့်ပစ္စည်း

၂။ (က) မြေ ။ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကျွန်းကလေးစိုက်ကွင်း စိုက်ပျိုးမြေ ဧရိယာ (၉၈. ၂၁) ဧကအား ကြံသီးနှံ စိုက်ပျိုးထုတ်လုပ်ရန်အတွက် စာချုပ်လက်မှတ်ရေးထိုးသည့် (၂၂- ၁၀ -၂၀၁၄) က်နေ့မှစ၍ "အငှားချထားသူ" ၏ တစ်နှစ်ချင်း အတည်ပြုချက်ဖြင့် ငှားရမ်းကာလ ကနဦး (၁၀) နှစ်နှင့် (၅) နှစ် (၂) ကြိမ် သက်တမ်းတိုးသည့်စနစ် (၁၀+၅+၅)၊ စုစုပေါင်း (၂၀) နှစ်ဖြင့် ငှားရမ်းရန် သဘောတူညီပါ သည်။






**စာချုပ်အကျိုးသက်ရောက်မည့်နေ့**

၃။ ဤသဘောတူစာချုပ်သည် "အငှားချထားသူ" နှင့် " အငှားချထားခြင်းခံရသူ" တို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

**ငှားရမ်းသည့်ကာလ**

၄။ (က) ငှားရမ်းခြင်းကာလကို ပြည်ထောင်စုဝန်ကြီး၏ မိန့်မှတ်ချက်အရ ၁-၈-၂၀၁၃ မှ ၃၀-၆-၂၀၁၄ ရက်နေ့အထိ ကြံသီးနှံစမ်းသပ်စိုက်ပျိုးကာလအဖြစ် သတ်မှတ်ပြီး အငှားချထားသည့်မြေကို စာချုပ်ချုပ်ဆိုလက်မှတ်ရေးထိုးသည့် (၂၂-၁၀ -၂၀၁၄) ရက်နေ့မှစ၍ စိုက်ပျိုးမည့်မြေ (၉၈. ၂၁) ဧကကို " အငှားချထားသူ" ၏ တစ်နှစ်ချင်း အတည်ပြုချက်ဖြင့် ငှားရမ်းကာလ ကနဦး (၁၀) နှစ်နှင့် (၅) နှစ် (၂) ကြိမ် သက်တမ်းတိုးသည့်စနစ် (၁၀+၅+၅)၊ စုစုပေါင်း (၂၀) နှစ်ဖြင့် နှစ်ရှည် ငှားရမ်းရန် သဘောတူကြပါသည်။

(ခ) ငှားရမ်းခြင်း သက်တမ်းကုန်ဆုံး၍ နောက်ထပ်ငှားရမ်းလိုလျှင် (၆) လကြိုတင် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်း ဆွေးနွေးပြီး နောင်ထပ်မံ ငှားရမ်းမည့် သက်တမ်းကာလ တိုးမြှင့်ခြင်းကိစ္စတို့ကို ဆောင်ရွက်နိုင်ရန်သဘောတူကြပါသည်။

**ငှားရမ်းခ**

၅။ (က) စိုက်ကွင်းမြေ (၉၈. ၂၁) ဧကအား တစ်နှစ်လျှင် တစ်ဧက ကျပ် (၁၀၀၀၀ိ/-) နှုန်းဖြင့် (၁) နှစ်အတွက် ကျပ် (၉. ၈၂၁) သိန်း ဖြင့် ငှားရမ်းကြပါမည်။ ငှားရမ်းခအား(၁-၇-၂၀၁၄) ရက်နေ့မှစ၍ တွက်ချက် ပေးချေရမည်။

(ခ) အငှားချထားခြင်း ခံရသူသည် မြေငှားရမ်းခ (၁) နှစ်စာအတွက် ကျသင့်ငွေ ကျပ် (၉. ၈၂၁) သိန်း ကို စာချုပ်သည့်နေ့မှစ၍ တစ်ပတ်အတွင်း အငှားချထားသူသို့ပေးသွင်းရမည်။

(ဂ) ငှားရမ်းခအား ကနဦးငှားရမ်းသက်တမ်း (၁၀) နှစ်အတွင် ငှားရမ်းခအဖြစ် (၁) နှစ်လျှင် ငွေကျပ် (၉. ၈၂၁) သိန်း နှုန်းနှင့် သက်တမ်းတိုး (၅) နှစ် (၂) ကြိမ်အတွက် လုပ်ငန်း၏ အကျိုးအမြတ်အပေါ်မူတည်၍ နောက်ဆုံး ငှားရမ်းခသတ်မှတ်နှုန်းထက် (၁၅%) ပိုခြင်းမဖြစ်စေရပါဟု ငှားရမ်းရန် သဘောတူညီကြပါသည်။




**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၆။ "အငှားချထားသူ"သည် အငှားချထားမည့် မြေကို တရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး "အငှားချထားခြင်းခံရသူ" သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့်အညီ ဖွဲ့စည်းထား၍ တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်သည့်အပြင် ဤသဘောတူစာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြကြောင်း အသီးသီးကိုယ်စားပြုအာမခံချက် ပေးကြပါသည်။

**စာချုပ်သက်တမ်းတိုးမြှင့်ခြင်း**

၇။ (က) "အငှားချထားခြင်းခံရသူ" သည် စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် မြေကို ဆက်လက် ငှားရမ်းလိုပါက စာချုပ်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၆) လ ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြပြီး "အငှားချထားသူ"ကို စာဖြင့် အကြောင်းကြား တင်ပြရမည်။

(ခ) "အငှားချထားခြင်းခံရသူ" က ကနဦး (၁၀) နှစ်နှင့် သက်တမ်းတိုး (၅) နှစ် (၂) ကြိမ်၊ စုစုပေါင်း နှစ် (၂၀) ငှားရမ်းကာလပြည့်မြောက်ပြီးနောက် ဆက်လက်ငှားရမ်းရန် အတွက် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်၍ ထပ်မံငှားရမ်းမည့်ကာလအတွက် "အငှားချထားသူ"က သဘောတူလျှင် စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။

**စာချုပ်ရုပ်သိမ်းခြင်း**

၈။ (က) ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ဖော်ပြပါအကြောင်းချင်းရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် ဤသဘောတူစာချုပ်ကို ရုပ်သိမ်းခွင့်ရှိစေရမည်။

(၁) စာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် ပျက်ကွက်ခြင်း။

(၂) မလွန်ဆန်နိုင်သော ဖြစ်ရပ်သည် တစ်ဆက်တည်း (၆) လ ကာလအထိ ကြာမြင့်ခြင်း။

(၃) နှစ်ဖက်သဘောတူစာချုပ်ရုပ်သိမ်းခြင်း။

(၄) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

(ခ) ဤစာချုပ် ချုပ်ဆိုသူများ၏ လုပ်ငန်းရုပ်သိမ်းလိုကြောင်း စာဖြင့်ရေးသား တင်ပြချက်သည် ဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(ဂ) စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့(သို့မဟုတ်)ရုပ်သိမ်းသည့်နေ့မှ (၄၅)ရက်အတွင်း ဤလုပ်ငန်းစာရင်းအားလုံး အကြေအလည် ရှင်းလင်းပြီး ငှားရမ်းထားသော မြေသည် "အငှားချထားသူ" သို့ ပြန်လည်ရောက်ရှိစေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၉။ ဤစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ ထိုသို့ဖြေရှင်း မရနိုင်ပါက တည်ဆဲဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကိုခံယူရမည်။




**အာမခံထားခြင်း**

၁၀။ မြန်မာ့အာမခံဥပဒေ ပြဋ္ဌာန်းချက်နှင့် အညီ "အငှားချထားခြင်းခံရသူ" သည် မြန်မာ့အာမခံလုပ်ငန်းတွင် ငှားယူထားသော မြေလွှဲပြောင်းလက်ခံပြီးသည့်နေ့မှ တစ်လအတွင်း မီးအာမခံထားပေးရမည်ဖြစ်ပြီး ပြီးပြည့်စုံသော မီးဘေးအန္တရာယ်ကာကွယ်ရေး စီမံချက်ရေးဆွဲထားရှိရမည်။



**မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ**

၃၁။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထား ခြင်းခံရသူသည် အငှားချထားသူသို့နစ်နာဆုံးရှုံးမှုအတွက်လျော်ကြေး တောင်းခွင့် မရှိစေရ။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁၄) ရက်အတွင်း "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"သို့ ချက်ချင်းစာဖြင့် ရေးသား အကြောင်းကြားရမည်။ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး မြေနှင့် အဆောက်အဦး အသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြား အတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။ စာချုပ်ပါ နှစ်ဦးနှစ်ဖက်များမှ သေချာစွာ ဂရုစိုက် ဆောင်ရွက်သော်လည်း မမျှော်လင့်သော ဘေးအန္တရာယ် ကျရောက်ခြင်းများ ဖြစ်ပေါ်လာပါက မည်သူ့တွင်မှ တာဝန်မရှိစေရ။

**စာချုပ်အားပြန်လည်ညှိနှိုင်းခြင်းနှင့်ပြင်ဆင်ခြင်း**

၃၂။ စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ (သို့မဟုတ်) ဤစာချုပ်တွင် မပါရှိသည့် ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ကို ပြန်လည်ဖြည့်စွက်ခြင်း၊ ပြင်ဆင်ခြင်းကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက် စာဖြင့်ရေးသား၍ သဘောတူညီချက်ရရှိပါက စာချုပ်ကို ပြန်လည် ပြင်ဆင်ခွင့် ရှိစေရမည်။ ဤကဲ့သို့ စာချုပ်ပြင်ဆင်ဖြည့်စွက်ခြင်းသည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက် ရရှိပြီးမှသာ အကျိုးသက်ရောက်စေရမည်။

**အငှားချထားသူ၏ တာဝန်**

၃၃။ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) " အငှားချထားခြင်းခံရသူ " အား ငှားရမ်းမှုသက်တမ်းနှင့် တိုးမြှင့်ထားသော ငှားရမ်းသက်တမ်းအတွင်း အေးချမ်းသာယာစွာ လက်ဝယ်ထားရှိခွင့်ပေးရမည်။

(ခ) ငှားရမ်းကာလအတွင်း မြေခွန်စည်းကြပ်မှုအားလုံးကို " အငှားချထားသူ " မှ ပေးသွင်းရမည်။



အငှားချထားခြင်းခံရသူ၏ တာဝန်

၁၄။ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) အငှားချထားသောဧရိယာ(သို့မဟုတ်) ယင်းတို့၏ အစိတ်အပိုင်းတစ်ခုခုပေါ်တွင် ဆောင်ရွက်သောလုပ်ရှားဆောင်ရွက်မှုများနှင့် စီစဉ်လုပ်ဆောင်သောလုပ်ငန်းများအားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေနှင့်အညီ ကိုက်ညီမှုရှိစေရေးအတွက် သေချာစွာ လိုက်နာဆောင်ရွက်ရန်နှင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ညီညွတ်စွာဆောင်ရွက်ရန်။

(ခ) အငှားချထားခြင်းခံရသူသည် အငှားချထားသည့် မြေအား သီးနှံစိုက်ပျိုးထုတ်လုပ်သည့် လုပ်ငန်းအတွက်ကိုသာ အသုံးပြုရန်နှင့် မီးဘေးကြိုတင်ကာကွယ်ရေးအတွက် ပေါင်းမြက်ရှင်းလင်းစွာထားရှိရန်။

(ဂ) အငှားချထားသည့် မြေဧရိယာတွင် ဥပဒေနှင့်မလွတ်ကင်းသော လုပ်ငန်းများဆောင် ရွက်ခြင်းနှင့် တည်ဆဲတရားဥပဒေနှင့် ဆန့်ကျင်သော ကုန်ပစ္စည်းများထားရှိခြင်း၊ ခေတ္တထားသိုခြင်း လုံးဝမပြုလုပ်ရန်။

(ဃ) အငှားချထားသည့် မြေဧရိယာအား ရောင်းချခြင်း မပြုရန်၊

(င) အငှားချထားသောဧရိယာ (သို့မဟုတ်) ယင်းတို့၏ အစိတ်အပိုင်းတစ်ခုခုအပေါ်ဆိုခဲ့သည့် သက်တမ်းကာလ အတောအတွင်း မြေခွန်မှလွဲ၍ ယခုလောလောဆယ် (သို့မဟုတ်) နောက်ပိုင်း စည်းကြပ်မည့်အခွန်အခများ အားလုံးကို ပေးသွင်းရန်။

(စ) ငှားရမ်းသည့်မြေပေါ်တွင် အဆိုပြုလွှာတွင် ပါဝင်သည့် လုပ်ငန်းများ အမှန်တကယ်ဆောင်ရွက်မှု ရှိ/မရှိကို ပိုင်ရှင်ဘက်မှ (၃) လတစ်ကြိမ် လုပ်ထုံးလုပ်နည်းနှင့်အညီ ဝင်ရောက် စစ်ဆေးမှု၌ ပူးပေါင်းပါဝင် ဆောင်ရွက်ပေးရန်။

**ဒဏ်ကြေး**

၁၅။ (က) (၁)နှစ်စာ မြေငှားရမ်းခအား စာချုပ်ချုပ်ဆိုသည့် နေ့မှစ၍ တစ်ပတ်အတွင်း ငွေအကြေပေးသွင်းရန်နှင့် စေ့ရောက်သည့် နေ့ရက်တွင် ပေးသွင်းခြင်းမရှိပါက ဒဏ်ကြေးအဖြစ် (၁) လလျှင် တစ်နှစ်စာ ငှားရမ်းခ၏ (၂ %)ဖြင့် ထပ်ဆောင်းပေးချေရမည်။

(ခ) လာမည့်နှစ်များတွင် မူလမြေငှားရမ်းသည့် နေ့ရက်မတိုင်မီ တစ်ပတ်အလိုတွင် (၁) နှစ်စာ မြေငှားရမ်းခအား အကြေပေးသွင်းရန်နှင့် သတ်မှတ်ရက် အတွင်း ပေးသွင်းခြင်းမရှိပါက ဒဏ်ကြေးအဖြစ်(၁)လလျှင်တစ်နှစ်စာငှားရမ်းခ၏ (၂%) ဖြင့် ထပ်ဆောင်းပေးချေရမည်။



## ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၆။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့မှ (၄၅) ရက်အတွင်း လုပ်ငန်းစာရင်းအားလုံးအကြေအလည်ရှင်းလင်းပြီး အငှားချထားသည့်မြေကို အငှားချထားသူသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

## မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၁၇။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် "အငှားချထားသူ" က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် "အငှားချထားခြင်းခံရသူ" သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက "အငှားချထားသူ" သည် အငှားချထားသည့်မြေကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့် ရှိသည်။ သို့ရာတွင် ယင်းသို့ ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည့် "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ" ထံမှ ရရန်ရှိသော ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ဘာသာစကား

၁၈။ ဤစာချုပ်ကို မြန်မာဘာသာဖြင့် သုံးစွဲရေးသားပြီး မြန်မာနိုင်ငံတည်ဆဲ ဥပဒေများနှင့်လည်း ညီညွတ်အကျုံးဝင်စေရမည်။ စာချုပ်တစ်ခုစီကို အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ တို့မှ တစ်စုံစီယူထားပြီး စာချုပ်မိတ္တူကို သက်ဆိုင်ရာ ဝန်ကြီးဌာနသို့ ပေးပို့ရမည်။

## အကြောင်းကြားစာ

၁၉။ နို့တစ်စာများ(သို့မဟုတ်)အခြားအချက်အလက် အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ရေးသားပြီး စာတိုက်မှတ်ပုံတင်ချောစာဖြင့် ဖြစ်စေ၊ အီးမေးလ်ဖြင့်ဖြစ်စေ၊ ဖက်(စ်) ဖြင့်ဖြစ်စေ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်နည်း စနစ်ဖြင့်ဖြစ်စေ သက်ဆိုင်ရာ အဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည့် ဆက်သွယ်ရန်လိပ်စာမှာ စာချုပ်တွင်ဖော်ပြပါရှိသော လိပ်စာ အတိုင်းဖြစ်ပါသည်-

(က) **အငှားချထားသူ**

| | | | |
|---|---|---|---|
| (၁) | အမည် | - | ဦးကျော်ရွှေ (ညွှန်ကြားရေးမှူးချုပ်) |
| (၂) | လိပ်စာ | - | စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန ရုံးအမှတ်(၅၀)၊ နေပြည်တော် |
| (၃) | ဖုန်းအမှတ် | - | ၀၆၇-၄၁၀၀၀၄ |
| (၄) | ဖက်စ်အမှတ် | - | ၀၆၇-၄၁၀၀၁၃ |



(ခ) အငှားချထားခြင်းခံရသူ

(၁) အမည် - ဦးဆန်းလင်းအောင်
Delicious Food Limited

(၂) လိပ်စာ - အမှတ်-၁၈၅/၁၉၀၊ အခန်း (၉၀၂)၊ ပန်းဆိုးတန်း တာဝါ၊ ပန်းဆိုးတန်းလမ်း၊ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

(၃) ဖုန်းအမှတ် - ၉၅-၀၁-၃၉၁၃၈၄၊၉၅-၀၉-၇၃၂၂၀၃၉၇

(၄) ဖက်စ် - ၉၅-၀၁-၅၀၃၈၃၂

(ဂ) ယခုကဲ့သို့ စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြား တစ်ဖက်မှ လက်ခံရရှိကြောင်း ပြန်ကြားစာရရှိပြီးမှသာ ပေးပို့ခြင်းကို အတည်ပြု နိုင်သည်။ အကယ်၍ လိပ်စာပြောင်းလဲခဲ့ပါက စာဖြင့်ရေးသား အကြောင်း ကြားရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၀။ "အငှားချထားသူ"အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင် နေရာများ အား ကောင်းစွာကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန်တာဝန်ရှိသည်။ ထိုအပြင် လေထု၊ ရေထု၊ မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီး ဆုံးရှုံး ခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကိုဆောင်ရွက်ရမည်။ ပတ်ဝန်းကျင်ဘေး အန္တရာယ် ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သော အကာအကွယ်အစီအစဉ်များ ဆောင်ရွက် ရမည်။

**မြေကွက်၏ မြေပုံ**

၂၁။ ငှားရမ်းခြင်း သဘောတူစာချုပ်အရဖြစ်သော ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့ရှိ ကျွန်းကလေးစိုက်ကွင်း မြေဧရိယာ (၉၈.၂၁) ဧက၏ တည်ရှိမှု မြေပုံကို နောက်ဆက်တွဲ (က) ဖြင့် ပူးတွဲပေးထားပါသည်။



သယံဇာတတွေ့ရှိခြင်း

၂၂။ ဆိုခဲ့သည့်မြေအတွင်းတွင် သို့မဟုတ် မြေအောက်တွင်ရှိသော ဓါတ်သတ္တုတွင်းများနှင့် တွင်းထွက် သယံဇာတထွက်ကုန်များ၊ နှစ်မြုပ်နေသောရတနာများ၊ ကျောက်မီးသွေး၊ ရေနံ၊ ရေနံစိမ်းနှင့် ကျောက်ကျင်းများ၊ မည်သည့်အရာများမဆို အငှားချထားသူက ပိုင်ဆိုင်သော ပစ္စည်းများ ဖြစ်စေရမည့်အပြင် အငှားချထားသူသည် မည်သည့်အချိန်၌မဆို ဖေါ်ပြခဲ့သည် များအား လွတ်လပ်စွာ တူးဖေါ်ခွင့် ရှိစေရမည်။

**အထွေထွေ**

၂၃။ (က) ငှားရမ်းမြေဧရိယာ(၉၈. ၂၁)ဧကအတွင်း၌ အဆောက်အဦး အသစ်တည်ဆောက် လိုခြင်းများအတွက် "အငှားချထားသူ"၏ အတည်ပြုချက်ရယူ ပြီးမှ ဆောင်ရွက် ရန်နှင့် ငှားရမ်းကာလ ပြည့်မြောက်က "အငှားချထားသူ"သို့ မူလမြေဧရိယာ (၉၈. ၂၁) ဧက အား ကောင်းမွန်သော အနေအထားအတိုင်း အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။

(ခ) မြေဧရိယာ (၉၈. ၂၁) ဧကအတွက် ကန့်သတ်ပိုင်းခြားမှုအား "အငှားချထားခြင်း ခံရသူ" မှ ဆောင်ရွက်လိုက မိမိတန့်ကျစရိတ်ငွေများဖြင့် "အငှားချထားသူ" ၏ အတည်ပြုချက် ရယူပြီးမှ ဆောင်ရွက်ရန်နှင့် ငှားရမ်းကာလ ပြည့်မြောက်က " အငှားချထားသူ" သို့ မူလမြေဧရိယာ (၉၈. ၂၁) ဧက အား ကောင်းမွန်သော အနေအထားအတိုင်း အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။

(ဂ) ဤစာချုပ်ပါ နောက်ဆက်တွဲများသည် စာချုပ်၏ တစိတ်တဒေသ ဖြစ်သည်။

(ဃ) ဤသဘောတူစာချုပ်သည် ကာလစည်းကမ်းချက်ဖြင့် လုပ်ကိုင်ခွင့်ပေးခြင်းသာ ဖြစ်၍ မြေယာပိုင်ဆိုင်မှုပေးခြင်း မဟုတ်ကြောင်း သိရှိလက်ခံရမည်။

(င) အငှားချထားသည့်မြေပေါ်တွင် အငှားချထားခြင်းခံရသူက အခြားလုပ်ငန်းများ (လူသုံးကုန်ပစ္စည်း၊စားသောက်ကုန်ပစ္စည်း၊လယ်ယာ ထွက်ကုန်ပစ္စည်းရောင်းဝယ် ရေးလုပ်ငန်း) ကိုပါ ဆောင်ရွက်လုပ်ပိုင်ခွင့်ရှိသည်။

(စ) အငှားချထားခြင်းခံရသူ Delicious Food Limited သည် ငှားရမ်းသည့် မြေအားငှားရမ်း၍ သီးနှံစိုက်ပျိုးခြင်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် ငှားရမ်း ကာလ ကနဦး (၁၀) နှစ်တွင် ကျပ်သိန်း (၃၀၀) နှင့် နောင် (၅) နှစ် (၂) ကြိမ် အတွက် ကျပ်သိန်း (၁၀၀) စီဖြင့် ရင်းနှီးမြုပ်နှံဆောင်ရွက်သွားမည် ဖြစ်ပါ သည်။



သက်သေအရာတည်စိမ့်သောငှာ ဤစာချုပ်တွင် ပါဝင်ချုပ်ဆိုသူများက [illegible] ရေးသားဖော်ပြထားသည့် နှစ်၊ လ၊ ရက်တို့၌ မိမိတို့၏ တံဆိပ်များကို ခပ်နှိပ်၍ [illegible] လက်မှတ်ရေးထိုး အတည်ပြုကြပါသည်။

| စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန(ကိုယ်စား) | **Delicious Food Limited(ကိုယ်စား)** |
| --- | --- |
| ထိုးမြဲလက်မှတ် | ထိုးမြဲလက်မှတ် |
| အမည် - ဦးကျော်ရွှေ | အမည် - ဦးဆန်းလင်းအောင် |
| ရာထူး - ညွှန်ကြားရေးမှူးချုပ် | ရာထူး - အထွေထွေမန်နေဂျာ |
| ဌာန -စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန | နိုင်ငံသားစီစစ်ရေးအမှတ်-၁၂/သလန(နိုင်)၀၇၉၆၅၉ |
| | Delicious Food Limited |

| အသိသက်သေ | အသိသက်သေ |
| --- | --- |
| ထိုးမြဲလက်မှတ် | ထိုးမြဲလက်မှတ် |
| အမည် - ဦးကျော်ဆွေလင်း | အမည် - ဦးသီဟ |
| ရာထူး - ညွှန်ကြားရေးမှူး | ရာထူး - မန်နေဂျာ |
| ဌာန - စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန<br>လယ်ယာစိုက်ပျိုးရေးနှင့်<br>ဆည်မြောင်းဝန်ကြီးဌာန | နိုင်ငံသားစီစစ်ရေးအမှတ်-၉/သစန(နိုင်)၁၆၇၉၆၀ |
| | Delicious Food Limited |



ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကျွန်းကလေးစိုက်ကွင်း၏
မြေဧရိယာ (၉၈.၂၁) ဧက ငှားရမ်းခြင်းသဘောတူစာချုပ်ကို
ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်

စာချုပ်အမှတ်- ၁၁ /2015

စိုက်ပျိုးရေးဦးစီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန




နှင့်




Delicious Food Limited

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ( ၅ ) ရက်။
နေရာ။ ။ စိုက်ပျိုးရေးဦးစီးဌာန (ရုံးချုပ်)၊ နေပြည်တော်




-5 NOV 2015

# ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကျွန်းကလေးစိုက်ကွင်း၏ မြေဧရိယာ (၉၈.၂၁) ဧက ငှားရမ်းခြင်းသဘောတူစာချုပ်ကို ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်

စာချုပ်အမှတ်- /2015 ရက်စွဲ။ ၅ - ၁၁-၂၀၁၅

ဤငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နေပြည်တော်၌၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ( ) ရက်၌ ဦးကျော်ရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန ကိုယ်စားပြုသော နေပြည်တော်၊ ရုံးအမှတ်(၁၅)တွင်တည်ရှိသည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန (ရုံးချုပ်) ( နောင်တွင် “ အငှားချထားသူ” ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကတစ်ဘက် နှင့် ဦး[illegible]အောင်၊ မန်နေဂျာ (နိုင်ငံသားစီစစ်ကတ်အမှတ်- ၁၂/ သလန (နိုင်) ၀၇၉၆၅၉) ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၁၈၅/၁၉၀)၊ အခန်းအမှတ်(၉၀၂)၊ ပန်းဆိုးတန်း တာဝါ ၊ ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့တွင် တည်ရှိသော Delicious Food Ltd၊ (နောင်တွင် “ ငှားယူသူ” ဟု ခေါ်ဆိုမည် ဖြစ်ပြီး၊ ယင်းစကားရပ် ၌၊ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်) က အခြားတစ်ဘက်တို့သည် (က) (၂၂.၁၀.၂၀၁၄) ရက်နေ့တွင် ငှားရမ်းရေးသဘောတူ စာချုပ်ကို (နောင်တွင် "မူလစာချုပ်" ဟု ခေါ်ဆိုမည်) ကို ချုပ်ဆိုခဲ့ပါသည်။ (ခ) မူလစာချုပ် ချုပ်ဆိုခဲ့သော စက်မှုသီးနှံ ဖွံ့ဖြိုးရေးဦးစီးဌာနအား ယခု စိုက်ပျိုးရေးဦးစီးဌာနအဖြစ် အမည်ပြောင်းလဲခဲ့ပါသည်။ (ဂ)မူလစာချုပ်ကို ပြင်ဆင်ဖြည့်စွက်ရန် လိုအပ်လာပါသောကြောင့် ဤပြင်ဆင်ချက် သဘောတူ စာချုပ်အား အောက်ပါစည်းကမ်းချက်များကို သဘောတူ၍ ချုပ်ဆိုကြပါသည်။ အောက်ပါ စည်းကမ်းချက်များကို သတ်မှတ်၍ ဤသဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

၁။ မူလစာချုပ်၏ ငှားရမ်းခ ခေါင်းစဉ်အောက်ရှိ အပိုဒ် (၅) အပိုဒ်ခွဲ (ဂ)အား [illegible] ပြင်ဆင်ရန် သဘောတူကြပါသည်။

(ဂ) ငှားရမ်းခအား ကနဦးငှားရမ်းသက်တမ်း (၁၀)နှစ်အတွင်း ငှားရမ်းခအဖြစ် (၁)နှစ်လျှင် ငွေကျပ် (၉.၈၂၁)သိန်းနှုန်းနှင့် သက်တမ်းတိုး (၅)နှစ် (၂)ကြိမ်အတွက် လုပ်ငန်း၏ အကျိုးအမြတ်အပေါ် မူတည်၍ နောက်ဆုံး ငှားရမ်းခသတ်မှတ်နှုန်းထက် (၅)ရာခိုင်နှုန်း ပိုခြင်း/လျော့ခြင်း မဖြစ်စေရပါဟု ငှားရမ်းရန် သဘောတူညီကြပါသည်။

၂။ မူလစာချုပ်၏ အငှားချထားခြင်းခံရသူ၏ တာဝန် ခေါင်းစဉ်အောက်ရှိ အပိုဒ် (၁၄) အပိုဒ်ခွဲ (စ) အား အစားထိုးပြင်ဆင်ရန် သဘောတူကြပါသည်။

(စ) "အငှားချထားသူ"၏ ငှားရမ်းထားရှိသော မြေဧရိယာ (၉၈.၂၁)ဧကအား အငှားချထားသူမှ (၁)နှစ် (၁)ကြိမ် ဝင်ရောက်စစ်ဆေးမှု အား ကြည်ဖြူစွာ လက်ခံ ဆောင်ရွက်ရမည်။

၃။ မူလစာချုပ်၏ အထွေထွေ ခေါင်းစဉ်အောက်ရှိ အပိုဒ် (၂၃) အပိုဒ်ခွဲ(င)အား အစားထိုးပြင်ဆင်ရန် သဘောတူကြပါသည်။

(င) အငှားချထားသည့် မြေပေါ်တွင် အငှားချထားခြင်းခံရသူက အခြားလုပ်ငန်းများ လုပ်ကိုင်ခြင်းမပြုရ။ ချည်မျှင်ထုတ်လုပ်ငန်းနှင့် လုပ်ငန်းဆိုင်ရာ လုပ်ငန်းများ သုံးကုန်ပစ္စည်းများနှင့် စားသောက်ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊ လယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၊ ရောင်းဝယ်ရေးလုပ်ငန်း၊ စက်မှုလုပ်ငန်း၊ အဆောက်အဦးများ ဆောက်လုပ်ခြင်း၊ ဆောက်လုပ်ရေးလုပ်ငန်းများကိုပါ ဆောင်ရွက်လုပ်ပိုင်ခွင့် ရှိသည်။

Delicious Food Limited

၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏အစိတ်အပိုင်းတစ်ရပ်အဖြစ်မှတ်ယူရမည်။

၅။ အထက်ပါပြင်ဆင်ဖြည့်စွက်သော စည်းကမ်းချက်များမှအပ မူလစာချုပ်၏ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၆။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် စာချုပ်ဝင်များ နှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မည်ဖြစ်သည်။

ဤစာချုပ်တွင် ပါဝင်ချုပ်ဆိုသော စာချုပ်ဝင်များက အထက်ဖော်ပြပါ စည်းကမ်းချက်များကို နားလည်သဘောပေါက်သဖြင့် အောက်ပါသက်သေများရှေ့တွင် ၂၀၁၅ခုနှစ်၊ နိုဝင်ဘာလ ရက်၌ မိမိတို့၏ တံဆိပ်များခပ်နှိပ်ကြလျက် လက်မှတ်ရေးထိုးကြပါသည်။

"အငှားချထားသူ" (ကိုယ်စား)

ထိုးမြဲလက်မှတ်၊ ........................

အမည် - ဦးကျော်ရွှေ

ရာထူး - ညွှန်ကြားရေးမှူးချုပ်

ဌာန - စိုက်ပျိုးရေးဦးစီးဌာန



"ငှားယူသူ" (ကိုယ်စား)

ထိုးမြဲလက်မှတ်၊ ........................

အမည် - ဦးဆန်းလင်းအောင်

ရာထူး - အထွေထွေမန်နေဂျာ

မှတ်ပုံတင် - ၁၂/သလန(နိုင်) ဝ၇၉၆၅၉

ကုမ္ပဏီ - Delicious Food Limited




အသိသက်သေ

ထိုးမြဲလက်မှတ် - ------------------

အမည် - ဦးဇော်ထွန်းမြင့်

ရာထူး - ဒုတိယညွှန်ကြားရေးမှူးချုပ်

ဌာန - စိုက်ပျိုးရေးဦးစီးဌာန

အသိသက်သေ

ထိုးမြဲလက်မှတ်၊ ----------------------

အမည် - ဦးသီဟ

မှတ်ပုံတင် - ၉/သစန(နိုင်) ၁၆၇၉၆၀

ရာထူး - မန်နေဂျာ

ကုမ္ပဏီ - Delicious Food Limited

ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကျွန်းကလေးစိုက်ကွင်း၏ မြေဧရိယာ (၉၈.၂၁) ဧက ငှားရမ်းခြင်းသဘောတူစာချုပ်ကို ဒုတိယအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်

စာချုပ်အမှတ်- ၁၉ /2016

စိုက်ပျိုးရေးဦးစီးဌာန

လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန




နှင့်




Delicious Food Limited

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ( ၁ ) ရက်။

နေရာ။ ။ စိုက်ပျိုးရေးဦးစီးဌာန (ရုံးချုပ်)၊ နေပြည်တော်




# ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ ကျွန်းကလေးစိုက်ကွင်း၏ မြေဧရိယာ (၉၈.၂၁) ဧက ငှားရမ်းခြင်းသဘောတူစာချုပ်ကို ဒုတိယအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်

စာချုပ်အမှတ်- 12 /2016 ရက်စွဲ။ ၁ -၃-၂၀၁၆

ဤငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နေပြည်တော်၌၊ ၂၀၁၆ ခုနှစ်၊ မတ်လ ( ၁ ) ရက်၌ ဦးကျော်ရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန ကိုယ်စားပြုသော နေပြည်တော်၊ ရုံးအမှတ်(၁၅)တွင်တည်ရှိသည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန (ရုံးချုပ်) ( နောင်တွင် “ အငှားချထားသူ” ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကတစ်ဘက် နှင့် ဦးဆန့်သင်းအောင်၊ မန်နေဂျာ (နိုင်ငံသားစိစစ်ကတ်အမှတ်- ၁၂/ သလန (နိုင်) ၀၇၉၆၅၉) ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၁၈၅/၁၉၀)၊ အခန်းအမှတ်(၉၈၁)၊ ပန်းဆိုးတန်း တာဝါ ၊ ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့တွင် တည်ရှိသော Delicious Food Ltd၊ (နောင်တွင် “ ငှားယူသူ” ဟု ခေါ်ဆိုမည် ဖြစ်ပြီး၊ ယင်းစကားရပ်၌၊ ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်) က အခြားတစ်ဘက်တို့သည် (က) (၂၂.၁၀.၂၀၁၄) ရက်နေ့တွင် ငှားရမ်းရေးသဘောတူ စာချုပ်ကို (နောင်တွင် "မူလစာချုပ်" ဟု ခေါ်ဆိုမည်) ကို ချုပ်ဆိုခဲ့ပါသည်။ (ခ) (၅.၁၁.၂၀၁၅)ရက်နေ့တွင် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်ကို (နောင်တွင် "ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်" ဟု ခေါ်ဆိုမည်) ကို ချုပ်ဆိုခဲ့ပါသည်။ (ဂ)မူလစာချုပ်နှင့် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ် ကို ပြင်ဆင်ဖြည့်စွက်ရန် လိုအပ်လာပါသောကြောင့် ဤပြင်ဆင်ချက် သဘောတူစာချုပ်အား အောက်ပါစည်းကမ်းချက်များကို သဘောတူ၍ ချုပ်ဆိုကြပါသည်။ အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ ဤသဘောတူစာချုပ်ကို ချုပ်ဆိုခြင်း ဖြစ်ပါသည်။

